



ပုံစံ(

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ–၀၅၃/၉၆ ၁၉၉၆ ခုနှစ်၊ ဒီဇင်ဘာ လ ၁၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးယဉ်ထွေးသက်

(ခ) အဘအမည် ဦးကျော်စိန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ(နိုင်)၀၂၅၁၅၃

(ဃ) နေရပ်လိပ်စာ အမှတ် ၃၁ (အိပ်ချ်)၊ မဟာမြိုင်လမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း စင်ထရယ်မားကက်တင်း(န်) ကုမ္ပဏီလီမိတက် ( Central Marketing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီ ပလာဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်း နှင့် လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်း လုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (ဂ၁)၊ မြေကွက်အမှတ် (ဂ/ဘီ–၄)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၃၂.၂ သန်း (ကျပ်သုံးဆယ့်နှစ်သန်းနှင့်နှစ်သိန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၄၅ / ၉၆

ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်၊ နတ်တော်လဆန်း ၈ ရက် ၊

( ၁၉၉၆ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက် )။

၁။ မြန်မာကုမ္ပဏီဖြစ်သော စင်တာရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက် ( Central Marketing Co., Ltd.) သည်၊ ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်း ၊ မြေတိုင်းရပ်ကွက်အမှတ် (၈၁) ၊မြေကွက်အမှတ် (ရ/ဘီ-၄) ရှိကုမ္ပဏီပိုင်မြေတွင်နိုင်ငံတကာအဆင့်မီပလာဇာ၊ ရုံးခန်း ၊ ဈေးဆိုင်ခန်းနှင့်လူနေတိုက်ခန်းများ ဆောက်လုပ်၍ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၂၉-၁၁-၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈/၉၆) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ကော်မရှင်မှမူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၄-၁၂-၉၆) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၄၀/၉၆) ကြိမ်မြောက် အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှတင်ပြခဲ့ရာ အစည်းအဝေးမှသဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၅)၊ ပုဒ်မ ၁၀ အရအပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် စင်တာရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက် (Central Marketing Co., Ltd. ) အား နိုင်ငံတကာအဆင့်မီပလာဇာ၊ ရုံးခန်း ၊ ဈေးဆိုင်ခန်းနှင့်လူနေတိုက်ခန်းများ ဆောက်လုပ်၍ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက်ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၅၃/၉၆ ကိုထုတ်ပေးလိုက်သည်။

၂။ စင်တာရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက် ( Central Marketing Co.,Ltd ) အနေဖြင့်၎င်းခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စတင်သောနှစ်အပါအဝင်ဆက်တိုက် (၃) နှစ်အတွက်ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့်ဥပဒေပုဒ်မ ၁၃ ပါပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

လျှို့ဝှက်

(က) ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေ ပေါ်မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃ (ဂ) အရ ဝန်ဆောင်မှုလုပ်ငန်း ကြောင့်သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို သီးသန့်ရန်ပုံငွေထားရှိ၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့်မူလတန်ဖိုး ပြည့်မီသည်အထိအမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း ပြည်တွင်း၌မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့်အခြားပြည်တွင်း အခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ (ဈ) အရ ပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း ( Source of Payments for Import ) ဥပမာ - ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ပြည်ပချေးငွေ ( Loan and Credits )၊ ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy-back System ) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ်ပြုထားသည့်စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency )၏စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်း အထောက်အထား ( Inspection Certificate )ဖြင့်တင်သွင်းမည့်ပစ္စည်းအမျိုးအစားစာရင်း (Invoice and Packing List ) များကို နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်သို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ စင်ထရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက် ( Central Marketing Co.,Ltd. ) သည် နိုင်ငံခြားသားများ သို့မဟုတ် နိုင်ငံခြားကုမ္ပဏီများသို့ အခန်းများကို ငှားရမ်းရာတွင် လုပ်ငန်းအတွက်အသုံးပြုရန် ( Leasehold Interest ) ကိုသာ ငှားရမ်းရမည်။ ထို့အပြင် ၁၉၈၇ ခုနှစ်၊ မရွှေ့မပြောင်းနိုင်သောပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့်ဥပဒေပုဒ်မ ၅၊ ပုဒ်မခွဲ (က) အရ တစ်ကြိမ်လျှင် တစ်နှစ်ထက်ပို၍ အငှားချထားခြင်း မပြုရသည့်အပြင် အငှားချထားခြင်းခံရသူနိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားကုမ္ပဏီက အခြားတစ်ဦးတစ်ယောက်သို့ ထပ်ဆင့်ငှားရမ်းခြင်း ( Sub-Lease )၊ လွှဲပြောင်းခြင်း ( Transfer ) တို့ကိုပြုလုပ်ခွင့်မရှိကြောင်း အငှားစာချုပ်တွင်ထည့်သွင်းချုပ်ဆိုရမည်။

၅။ ရင်းနှီးမြှုပ်နှံသူအနေဖြင့် မြေအသုံးပြုမှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုတိကျစွာလိုက်နာဆောင်ရွက်ရမည်။

၆။ စင်ထရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက် ( Central Marketing Co., Ltd. ) မှ နိုင်ငံခြားသားကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်

စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်း များ အခန်း (၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များနှင့်အညီ ကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမားသွန်ကြားမှုဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၈။ စင်တရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက် ( Central Marketing Co.,Ltd ) သည် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေး အစီအမံများ ကို စနစ်တကျထား၍ ဆောင်ရွက်ရမည်။

၉။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ကော်မရှင်သို့အမြန်ဆုံး အစီရင်ခံရမည်။

၁၀။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့် နေ့မှစ၍တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည်အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ် ယူရမည်။

အမိန့်အရ-

( ဗိုလ်မှူးချုပ်မောင်မောင် )
အတွင်းရေးမှူး
[ ဝန်ကြီး၊ ဒုတိယဝန်ကြီးချုပ်ရုံး ]

စာအမှတ်၊ ၇က-၁/မ-၀၉၀/၉၆ (၁၃၉၉)။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ဒုတိယဝန်ကြီးချုပ်ရုံး။
၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။
၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။
၈။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။
၉။ အလုပ်သမားဝန်ကြီးဌာန။
၁၀။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန။
၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။
၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်။
(ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်းနှင့်စစ်ဆေးရေး
ဦးစီးဌာန)
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။
၁၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန။
၂၀။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်
များအသင်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။
၂၂။ အုပ်ချုပ်မှုဒါရိုက်တာ၊ စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက်။
( Central Marketing Co., Ltd. )

အမိန့်အရ -

(မောင်မောင်ရီ)
တွဲဖက်အတွင်းရေးမှူး။

*ယာ၁၁/၁၂/၉၆။

(၂၂.၁၁.၉၆) ၁၉/၉၈ ကို/ဆို မှတ်တမ်း:



| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၁၁ | <u>စင်ထရယ်မဲဘား ကက်တင်း (န်) ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီအဆောက်အဦ ဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်း နှင့်လူနေအိမ်ခန်း များ တည်ဆောက်၍ ငှားရမ်း ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u><br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက စင်ထရယ်မဲဘား ကက်တင်း (န်) ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီအဆောက်အဦဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်း နှင့်လူနေအိမ်ခန်း များ တည်ဆောက်၍ ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြချက်၏အဓိကအချက်အလက်များကို ရှင်းလင်းတင်ပြပါသည်။<br><br>ဆက်လက်၍တွဲဖက်အတွင်းရေးမှူးက စင်ထရယ်မဲဘား ကက်တင်း (န်) ကုမ္ပဏီလီမိတက်မှတိုက်ခန်းလုပ်ငန်း ဆောင်ရွက်ရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၉၆)ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ရာတွင်ဆိုလ်ပတ်ဝန်း ကျင်ကွင်းတည့်ရှိ၍လုပ်ငန်း ဆောင်ရွက်ရန်သဘောမတူခဲ့ပါသဖြင့် Service Apartment တည်ဆောက်၍ ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်ရန် ပြောင်းလဲတင်ပြလာခြင်း ဖြစ်ပါကြောင်း၊ နိုင်ငံခြားသားများ သို့မဟုတ်နိုင်ငံခြားကုမ္ပဏီများ သို့အခန်းများ ငှားရမ်းမည်ဖြစ်ရာ sub-lease ကိုခွင့်မပြုသင့်ပါကြောင်း တင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ်၊ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က အခန်းများ ငှားရမ်းခြင်း အတွက် sub-lease ကိုတစ်နှစ်သာခွင့်ပြုသင့်ကြောင်း၊ Condominium Law ပြဋ္ဌာန်းပြီး မှသာအဆိုပါဥပဒေ အရလိုက်နာကျင့်သုံး ရန်သာရှိကြောင်း၊ ပြောကြားပါသည်။ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်သုံးသပ်ချက်၊ ဆုံးဖြတ်ချက် | ဆောင်ရွက်ရန်<br>သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| | တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက အဆိုပြုလုပ်ငန်းအတွက် နိုင်ငံခြားမှ အမေရိကန်ဒေါ်လာ ၁၀.၀၃ သန်း တန်ဖိုးရှိ မော်တော်ယာဉ်များ တင်သွင်းမည်ဖြစ်ပါကြောင်း တင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က မော်တော်ယာဉ်များကို တည်ဆောက်မှုကာလအတွင်း သာတင်သွင်း ခွင့်ပြုသင့်ကြောင်း၊ မော်တော်ယာဉ်များမှာ ပစ်ကပ်နှင့် truck သာခွင့်ပြုရန်နှင့် အသစ်ဖြစ်ရမည်ဖြစ်ပြီး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့်မူနှင့်ကိုက်ညီရန်လိုအပ်ကြောင်း ပြောကြားပါသည်။ | |
| | **ဆုံးဖြတ်ချက်။**<br>- အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ရန် မူအားဖြင့်သဘောတူကြောင်း၊<br>- နိုင်ငံခြားသားများ သို့မဟုတ် နိုင်ငံခြားကုမ္ပဏီများသို့ sub-lease ကိုတစ်နှစ်သာခွင့်ပြုရန်၊<br>- မော်တော်ယာဉ်များကို လုပ်ငန်းတည်ဆောက်မှုကာလအတွင်း တင်သွင်းရန်။ | အတွင်းရေးမှူး |

(၂၂.၁၁.၉၆) ၁၉/၉၆ ကြံ/မျ

လျှို့ဝှက်

## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ

## (မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁ | အမည် | စင်ထရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက်<br>(Central Marketing Co., Ltd. )<br>မြန်မာကုမ္ပဏီ( ၁၆-၉-၉၃ နေ့တွင်မှတ်ပုံတင်ပြီး) |
| ၂ | လုပ်ငန်း အဆိုပြုသူအမည်<br>လက်ရှိအလုပ်အကိုင် | ဦး ယဉ် ထွေး သက်<br>ထုတ်ကုန်သွင်းကုန်လုပ်ငန်း နှင့်အထွေထွေရောင်း ဝယ်ရေး လုပ်ငန်း / စက်မှုလက်မှုလုပ်ငန်း |
| ၃ | အဆိုပြုလုပ်ငန်း အမျိုး အစား | ရုံး ခန်း ၊ ဈေး ဆိုင်ခန်း နှင့်လူနေအိမ်ခန်း များ ဆောက်လုပ်ခြင်း နှင့်ငှား ရမ်း ခြင်း လုပ်ငန်း |
| ၄ | တည်နေရာ | မြေကွက်အမှတ်( ၇/ဘီ-၄)၊ မြေတိုင်း ရပ်ကွက် အမှတ် (၈၁)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| ၅ | စုစုပေါင်း ရင်း နှီး မြှုပ်နှံမှု | |
| | (ကျပ်သန်း) | ၃၂.၂၀ ( US$ ၁.၂သန်း အပါအဝင်) |
| | - ငွေပမာဏ | ၃.၁၄ |
| | - အဆောက်အဦ | ၁၀.၀၀ |
| | - မြေ | ၁၁.၄၆ |
| | - စက်ပစ္စည်း ကိရိယာများ | ၇.၂၀ ( US$ ၁.၂သန်း ) |
| ၆ | မြေအကြောင်း အရာ | |
| | - မြေအကျယ်အဝန်း | ၁.၆၂၄ဧက ( ၂၅၂၅စတုရန်း မီတာ) |
| | - မြေပိုင်ဆိုင်မှု | ပုဂ္ဂလိကပိုင် မြေ |
| | - မြေအမျိုး အစား | ကုမ္ပဏီပိုင် မြေ |
| ၇ | ဝန်ဆောင်မှု | နိုင်ငံတကာအဆင့်မီ( ၇ )ထပ်အဆောက်အဦ ဆောက်လုပ်၍ ရုံး ခန်း ၊ ဈေး ဆိုင်ခန်း နှင့်လူနေအိမ်ခန်း များ ဆောက်လုပ်ငှား ရမ်း မည်။ |

လျှို့ဝှက်

| | | | | |
|---|---|---|---|---|
| ၈။ | အဆောက်အဦး၏ ငှါးရမ်း နိုင်သော ကြမ်းပြင်ဧရိယာ | ၂၀၀၀ စတုရန်း မီတာ | | |
| ၉။ | ငှား ရမ်း မည့်နည်း စနစ် | အမေရိကန်ဒေါ်လာနှင့်ကျပ်ငွေများဖြင့်ငှား ရမ်း မည်။ | | |
| ၁၀။ | ငှား ရမ်း မှုနှုန်း | ပုံမှန်နှစ် | | |
| | - နိုင်ငံခြား ငွေဖြင့် | ၆၅ % | | |
| | - ကျပ် ငွေဖြင့် | ၂၀ % | | |
| ၁၁။ | အခန်း ငှား ခနှုန်း (တစ်စတုရန်းမီတာလျှင်) | ပုံမှန်နှစ် | | |
| | - နိုင်ငံခြား ငွေဖြင့် | ၃၈၀ | | |
| | - ကျပ် ငွေဖြင့် | ၅၇၀၀၀ | | |
| ၁၂။ | ဝင်ငွေ | ပထမနှစ် | တတိယနှစ် | ၁၁ နှစ်မြောက်မှစ၍ |
| | - ပြည်တွင်း (ကျပ်သန်း) | ၈.၅၈ | ၂၁.၁၂ | ၂၅.၀၈ |
| | - ပြည်ပ (အမေရိကန်ဒေါ်လာသန်း) | ၀.၃၂ | ၀.၄၆ | ၀.၅၄ |
| ၁၃။ | အသား တင်အမြတ် | | | |
| | - ပြည်တွင်း (ကျပ်သန်း) | ၀.၂၆ | ၄.၇၀ | ၅.၀၃ |
| | - ပြည်ပ (အမေရိကန်ဒေါ်လာသန်း) | ၀.၁၄ | ၀.၂၈ | ၀.၃၅ |
| ၁၄။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ် | | | |
| | - ဝင်ငွေခွန် | ကျပ် ၂.၅၂ သန်း | | |
| | - ကုန်သွယ်လုပ်ငန်း ခွန် | ကျပ် ၅၆.၃၅ သန်း | | |
| ၁၅။ | တည်ဆောက်မှုကာလ | ၁၀ လ | | |

| | | |
|---|---|---|
| ၁၆။ | ဝန်ထမ်းအင်အား | ၇၅ ဦး |
| | - ပြည်တွင်း | ၇၁ ဦး |
| | - ပြည်ပ | ၄ ဦး |
| ၁၇။ | အခြား | - စက်ပစ္စည်းနှင့် ဆောက်လုပ်ရေးပစ္စည်းများကို စင်ကာပူနိုင်ငံ SME International (s) Pte. Ltd. မှ Deferred Payment System အရ တစ်နှစ်လျှင် ၈ % အတိုးနှုန်းဖြင့် ၆ နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။<br>- မြေကန်ဖိုး ကျပ် ၁၁.၄၆ သန်း နှင့်အဆောက်အဦ တန်ဖိုး ကျပ် ၁၀.၀ သန်း ဖိုး ကိုမတည်ငွေရင်းအဖြစ်ထည့်ဝင်ထားပါသည်။<br>- Central Marketing Co., Ltd. မှဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုချက်ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၁-၅-၈၆) နေ့တွင်ကျင်းပသည့် (၈/၈၆) ကြိမ်မြောက်အစည်းအဝေးတွင်တင်ပြခဲ့ဘူးပါသည်။ ယင်းအစည်းအဝေးမှ ဟိုတယ်လုပ်ငန်း ဆောင်ရွက်မည့်နေရာမှာ ကန္တာဒိုလ်ပက်ဝန်းကျင်တွင်ဖြစ်သဖြင့်လုပ်ငန်း ဆောင်ရွက်ရန်သဘောမတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။<br>- ဤလုပ်ငန်းကိုမြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း နှင့် မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှပြဋ္ဌာန်းမည့်စည်းကမ်း သတ်မှတ်ချက်များကိုလိုက်နာမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။ |

- အခန်း ငှား ရမ်း ခကိုဝင်ငွေအဖြစ် ဖော်ပြရာတွင် နိုင်ငံခြား ငွေများ ပါဝင်နေသည့်အတွက် နိုင်ငံခြား သား များ သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီများ သို့အခန်း များ ကိုငှား ရမ်း မည်ဖြစ်ပါက ပုပ်ငန်း ဆောင်ရွက် ခွင့်နှင့်အသုံး ပြုခွင့် (right of occupancy) - ကိုသာငှား ရမ်း မည်ဖြစ် ကြောင်း တိကျစွာ ဖော်ပြ သင့်ပါသည်။

- စက်ပစ္စည်း ကိရိယာများ တွင်နိုင်ငံခြား မှတင်သွင်း မည့် မော်တော်ယာဉ်တန်ဖိုး US $ ၀.၀၃ သန်း ပါ ဝင်ပါသည်။

<u>လျှို့ဝှက်</u>

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၇၈-၆(ခ)/၇၆၁/၉၆(၁၂၉၀)

ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ နိုဝင်ဘာလ ၂၇ ရက်။

<u>အမှာစာ</u>

အကြောင်းအရာ။ ။ <u>စင်ထရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီအဆောက်အဦ ဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်း နှင့်လူနေအိမ်ခန်းများ တည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာနိုင်ငံမှ စင်ထရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက် (Central Marketing Co., Ltd.) သည် နိုင်ငံတကာအဆင့်မီအဆောက်အဦ ဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်း နှင့်လူနေအိမ်ခန်းများတည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၂-၁၁-၉၆) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၉/၉၆) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ ကော်မရှင်သို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်း ဝယ်ယူရန် ရွှေ့ဆိုင်း ငွေပေးချေခြင်းစနစ်ဖြင့်ဝယ်ယူမည့်သဘောတူစာချုပ် (မူကြမ်း) နှင့် ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများကို <u>နောက်ဆက်တွဲ (၁)</u> အဖြစ် တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁.၂၀ သန်း အပါအဝင်ကျပ် ၃၂.၂၀ သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် ၃.၅၄ သန်း၊ အဆောက်အဦ တန်ဖိုး ကျပ် ၁၈.၀၀ သန်း၊ မြေတန်ဖိုး ကျပ် ၁၀.၄၆ သန်း

နှင့်စက်ပစ္စည်း ကိရိယာတန်ဖိုး ကျပ်၇.၂၀သန်း (အမေရိကန်ဒေါ်လာ၁.၂၈သန်း) ပါဝင်မည်ဖြစ်ပါသည်။ စက်ပစ္စည်း နှင့် ဆောက်လုပ်ရေး ပစ္စည်း များ ကိုစင်ကာပူ နိုင်ငံ SME International (s) Pte Ltd. - မှ ရွှေဆိုင်း ငွေပေး ချေခြင်း စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။ ချေး ငွေကိုတစ်နှစ်လျှင်၈ရာခိုင်နှုန်း အတိုးနှုန်း ဖြင့်၆နှစ်အတွင်း ပြန်လည်ပေး ဆပ်မည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ကိုဆောင်ရွက်ရန်ကုမ္ပဏီပိုင် မြေဖြစ်သော ကမာရွတ်မြို့နယ်၊ ပြည်လမ်း ၊ မြေကွက်အမှတ်(၇/ဘီ-၄)၊ မြေတိုင်း ရပ်ကွက်အမှတ်(၈၁)ရှိ မြေဧရိယာ၀.၆၂၄ဧက(၂၅၂၅ စတုရန်း မီတာ) ပေါ်တွင်ရုံး ခန်း ၊ ဈေးဆိုင်ခန်း နှင့်လူနေအိမ်ခန်း များ တည်ဆောက်၍ငှား ရမ်း ဆောင်ရွက်မည်ဖြစ်ပါသည်။ မြေတန်ဖိုး ကျပ်၁၅.၄၆သန်း နှင့်အဆောက်အဦတန်ဖိုး ကျပ်၁၀.၀၈သန်း ကိုမတည်ငွေရင်း အဖြစ်ထည့်ဝင်ထား ပါသည်။

၄။ ဤလုပ်ငန်း တွင်အဆောက်အဦ၏ငှား ရမ်း နိုင်သောကြမ်း ပြင်ဧရိယာစုစုပေါင်း မှာ ၂၀၀၀ စတုရန်း မီတာဖြစ်ပါသည်။ ပုံမှန်နှစ်များ တွင်နိုင်ငံခြား ငွေဖြင့်ငှား ရမ်း မည့်နှုန်း ကို၆၅ရာခိုင်နှုန်း ဖြင့်လည်း ကောင်း ၊ ကျပ်ငွေဖြင့်ငှား ရမ်း မည့်နှုန်း ကို ၂၀ရာခိုင်နှုန်း ဖြင့်လည်း ကောင်း ခန့်မှန်း တွက်ချက်ထား ပါသည်။ အခန်း ငှား ခနှုန်း မှာပုံမှန်နှစ်တွင်တစ်စတုရန်း မီတာလျှင်နိုင်ငံခြား ငွေဖြင့်အမေရိကန်ဒေါ်လာ ၃၀၀ ဒေါ်လာနှုန်း ဖြင့်လည်းကောင်း ကျပ်ငွေဖြင့်ကျပ် ၅၇၀၀၀ နှုန်း ဖြင့်လည်း ကောင်း ငှား ရမ်း မည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်း ကိုဆောင်ရွက်ခြင်း ဖြင့်တစ်နှစ်ပျမ်း မျှရရှိမည့်ဝင်ငွေနှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က)ဝင်ငွေ | ၂၃.၄၂ | ၃.၁၀ | ၂၆.၅၂ |
| (ခ)အသုံး စရိတ် | ၁၉.၂၂ | ၁.၁၈ | ၂၀.၄၀ |
| (ဂ)အသားတင်အမြတ် | ၄.၂၀ | ၁.၉၂ | ၆.၁၂ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ တစ်နှစ်ပျမ်းမျှ ရရှိမည့်အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | (ကျပ်သန်း) |
|---|---|
| (က) ဝင်ငွေခွန် | ၂.၂၉ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | ၂.၆၅ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ပြည်တွင်းမှ ဝန်ထမ်း ၇၅ ဦးနှင့် နိုင်ငံခြားမှ ကျွမ်းကျင်သူ ၄ ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်းနှင့် မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၉။ ဤလုပ်ငန်းကို ဆောင်ရွက်မည့် စင်ထရယ်မားကက်တင်း (န်)ကုမ္ပဏီ လီမိတက်သည် (၁၆-၉-၉၃) နေ့က မှတ်ပုံတင်ထားပြီး ဖြစ်ပါသည်။ ယင်း၏ ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားအဖြစ် မြန်မာ့အရှေ့တိုင်းဘဏ်လီမိတက်တွင် ရှိဘဏ်စာရင်းကို ယှဉ်ပြထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအားလုံးကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို တောင်းခံထားရာ အောက်ပါအတိုင်း သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏပေါ်မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍မူ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ဝန်ဆောင်မှုလုပ်ငန်း ကြောင့် ပြည်တွင်း ပြည်ပဝင်ငွေတို့ တက်မှုရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်း အကောင်အထည်ဖော် မှု အရ လျှောက်ထားလာသည့်အခါစဉ်း စား ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ နိုင်ငံတော်အတွက်အဓိကလိုအပ်သည်ဟုသတ်မှတ်သည့်ဝန်ဆောင်မှုလုပ်ငန်း ဖြစ်ပြီး အကျိုး အမြတ် နည်းသည့်လုပ်ငန်း အပေါ်သင့်လျော်သောကာလအထိဝင်ငွေခွန် သက်သာခွင့်တောင်း ခံခြင်း ကိုအကျိုး ဝင်ခြင်း မရှိဟုသုံး သပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်း မှရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်း နှီး မြှုပ်နှံပါကထိုအမြတ်ငွေပေါ် ဝင်ငွေခွန်ကင်း လွတ်ခွင့်သို့မဟုတ်သက်သာခွင့်ကိုအမှန် တကယ် ပြန်လည်ရင်း နှီး မြှုပ်နှံမှုပြုသည့်အခါ လျှောက်ထား လာပါကခွင့် ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်း သုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုး လျော့ငွေကိုသတ်မှတ်သည့်နှုန်း အတိုင်း နှစ် တိုတို နှင့်မူလတန်ဖိုး ပြည့်မီသည်အထိအမြတ်ငွေမှ နုတ်ယူခွင့်နှင့်ပတ်သက်၍ လျှောက်ထား လာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်း နှီး မြှုပ်နှံမှုကာလ အတွင်း တင်သွင်း လာသည့်စက်ပစ္စည်း များ အပေါ်အကောက် ခွန်နှင့်အခြား ပြည်တွင်း အခွန်အကောက်များ ကင်း လွတ်ခွင့် ပြုသင့်ပါသည်။

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်သုံးသပ်ချက် ဆုံးဖြတ်ချက် | ဆောင်ရွက်ရန်<br>သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| | အခြား ပစ္စည်း ၁၁ ရင်း များ မှ သာ၍တင် လျှောက်ပတ်မှုရှိ ကြောင်း ပြောကြား ပါသည်။<br><br>ဒုတိယဗိုလ်မှူးကြီး - တင်လှိုင်ကယင်း ကုမ္ပဏီမှ Structural Materials အတွက်အမေရိကန် ဒေါ်လာ - ၈ သိန်းဘိုးတင်ပြထား ရာမိမိ အနေဖြင့်ဆိုင်း ငံ့ထား ပါကြောင်း တင်ပြပါသည်။<br><br>ဒုတိယဝန်ကြီး ချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က နိုင်ငံခြား မတည်ငွေရင်း ဘဏ်ဖိုး သတ်မှတ်ရေး အဖွဲ့အနေဖြင့် ကော်မရှင်သို့တင်ပြလာသည့် ၁ ၁ ရင်း နှင့်အညီ Structural Materials အတွက် အမေရိကန် ဒေါ်လာ - ၄ သိန်း ဘိုး ကိုအသေးစိတ် ၀၁ ရင်း တောင်း၍ [illegible] ခွင့်ပြုရန်ဖြစ် ကြောင်း ပြောကြား ပါသည်။<br><br>ဆုံး ဖြတ်ချက်<br><br>(၁) Central Marketing Co., Ltd. ၏ပြည်ပမှတင်သွင်း ခွင့်ပြုထား သည့်ကုန်ပစ္စည်း ကိရိယာများ အသေး စိတ်စာရင်း တင်ပြခြင်း ကိုအတည်ပြု ကြောင်း ၊<br><br>(၂) Structural Materials အတွက်အမေရိကန် ဒေါ်လာ ၄ သိန်း တင်ပြထား ခြင်း အပေါ် နိုင်ငံခြား မတည် ငွေရင်း ဘဏ်ဖိုး သတ်မှတ် ရေး အဖွဲ့ဝင်မှအ သေး စိတ် ၈ ၁ ရင်းတောင်း ခံ၍ [illegible] ခွင့်ပြုရန်ဖြစ် ကြောင်း ၊<br><br>(၃) မော်တော်ယာဉ်တင်သွင်း မှုနှင့်ပတ်သက်၍လုပ်ငန်းတည်ဆောက် ရေး ကာလတွင်ဆလွန်း ဘတ်စ် နှင့်ပစ်ကပ် (သို့) မိန်ဘတ်စ် တစ်စီး တို့ကိုအခွန်အ ကောက်ကင်း လွတ်ခွင့်ဖြင့်လည်း ကောင်း၊ လုပ်ငန်း ဆောင်ရွက်မည့်ကာလအတွင်း ဆလွန်း တစ်စီး နှင့် ပစ်ကပ် (သို့) မိန်ဘတ်စ်တစ်စီး ကိုအခွန်အ ကောက် ၅၈ % သက် သာခွင့်ဖြင့်လည်း ကောင်း တင်သွင်း ခွင့်ပြုရန်၊ | အတွင်း ရေးမှူး နိုင်ငံခြား မ တည်ငွေရင်းဘဏ် ဖိုးသတ်မှတ်ရေး အဖွဲ့ဝင်။ |

၁၇/၉၆ MIC မှတ်တမ်း
၂၉.၁၁.၉၆

<u>လျှို့ဝှက်</u>



| အမှတ်စဉ် | ဆွေးနွေးချက်နှင့်သို့မဟုတ်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန်တာဝန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၁၂ | <u>စင်ကာပူနိုင်ငံ၊ ဘေးတက်ကင်း(န်)ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီအဆောက်အဦ ဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့်လူနေအိမ်ခန်းများတည် ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။</u><br>ကော်မရှင်၏ ၂၇-၁၁-၉၆ ရက်စွဲပါစာအမှတ်၊ ရက-၆(ခ)/၇၆၁/၉၆(၁၂၉၀)။<br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီကအမှာစာကို ရှင်းလင်းတင်ပြပါသည်။<br>ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က မူလကတိုက်ရိုက်လုပ်ငန်း ဆောင်ရွက်ရန်တင်ပြလာခြင်းကို ပြောင်းလဲ၍ Service Apartment - တည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း လုပ်ငန်းဆောင်ရွက်ရန်တင်ပြခြင်းဖြစ်သဖြင့်အစိုးရအဖွဲ့သို့ဆက်လက်တင် ပြရန်ဖြစ်ကြောင်း ပြောကြားပါသည်။<br><u>ဆုံးဖြတ်ချက်။</u><br>(က) စင်ကာပူနိုင်ငံ၊ ဘေးတက်ကင်း(န်)ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီအဆောက်အဦ ဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ တည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြချက်ကိုသဘောတူပါသဖြင့် အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်။<br>(ခ) လုပ်ငန်းနှင့်ပတ်သက်သည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်။ | အတွင်းရေးမှူး |




# CENTRAL MARKETING Co., LTD.

31 (H), MAHAMYAING STREET, SANCHAUNG TOWNSHIP,
YANGON, MYANMAR. TEL : 951 - 524479 FAX : 951 - 527355

စာအမှတ် ၊ Central / ၀၃၆ / ၂၀၀၂
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဧပြီလ(၁၀ )ရက်

သို့

ဒုတိယညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ ။<u>ကမကထပြုလုပ်သူပြောင်းလဲရန်အတွက် ကော်မရှင်ခွင့်ပြုမိန့်(မူရင်း) ပေးပို့ခြင်း ကိစ္စ။</u>

ရည်ညွှန်းချက် ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၁.၃.၀၂)ရက်စွဲပါ စာအမှတ် ရက–၇/မ–၉၀၄/၂၀၀၁(၁၀၀၇၂–၄)

လူကြီးမင်းခင်ဗျား ,

ကျွန်တော်များကုမ္ပဏီ၏ ကမကထပြုလုပ်သူပြောင်းလဲခွင့်ပြုရန်တင်ပြခြင်းအပေါ် ရည်ညွှန်းပါစာဖြင့်ခွင့်ပြုချက်ရရှိခဲ့ပါသဖြင့် ကော်မရှင်၏ခွင့်ပြုမိန့်(မူရင်း)တွင် ပြင်ဆင်နိုင်ရန်အတွက် ဤစာနှင့်အတူပူးတွဲပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

TAY ZA
Managing Director
CENTRAL MARKETING CO., LTD.

မိတ္တူကို –
– ရုံးလက်ခံ။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) ဝင်ထရယ်မား ကက်တင်း (န်) ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီအဆောက်အဦ ဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်း နှင့်လူနေအိမ်ခန်း များ တည်ဆောက်၍ ငှားရမ်း ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) သဘောတူပါကအထက်အပိုဒ် ( ၁၀ ) ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုရန်သဘောတူ - မတူ။

အတွင်းရေးမှူး ( ကိုယ်စား )
[ မောင်မောင်ရီ၊ တွဲဖက်အတွင်းရေးမှူး ]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



* အေး * ၂၇-၁၁-၉၆

အထွေထွေအရ ပိ၃၆-၁၆

(ရုံးထွင်း စာအကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန်အတွက်)

အကြောင်းအရာ။ ။ စင်ထရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက်အား နိုင်ငံတကာအဆင့်မီပလါဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့် လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်ထုတ်ပေးခြင်း ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ စင်ထရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက်မှ ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (၈၁)၊ မြေကွက်အမှတ် (၇/ဘီ-၄) ရှိကုမ္ပဏီပိုင် မြေဖွင့်နိုင်ငံတကာအဆင့်မီပလာဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း ကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား - (၂၉-၁၁-၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၉၆) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ကော်မရှင်မှမူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ ကော်မရှင်၏ဆုံးဖြတ်ချက်နှင့်အညီ ယင်းအဆိုပြုလုပ်ငန်းအား (၄-၁၂-၉၆) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၄၀/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှတင်ပြခဲ့ရာ ယင်း

အစည်းအဝေး မှသဘောတူ ကြောင်း ဆုံး ဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအခန်း (၅)၊ ပုဒ်မ ၁၀ နှင့်ယင်း ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်း များ အခန်း (၄)၊ အပိုဒ်–၁၂တို့နှင့်အညီစင်ထရယ်မား ကက်တင်း (န်) ကုမ္ပဏီလီမိတက်သို့ထုတ်ပေး မည့်ခွင့်ပြုမိန့်တွင်လက်မှတ် ရေးထိုး ပေး နိုင်ပါရန်နှင့်ယင်း ခွင့်ပြုမိန့်ထုတ်ပေး မည့်အမှတ်စဉ် (မူကြမ်း)ကိုသဘောတူအတည်ပြုပေး နိုင်ပါရန်ပြုစုတင်ပြလျှက်အမိန့် နာခံအပ်ပါသည်။

၁၇–၀၂–၉၆။

၁၇/၂

အတွင်းရေးမှူး (ဝန်ကြီး)

Permit ထုတ်ပေးလက်မှတ်ရေးထိုးပေးနိုင်ပါရန်တင်ပြအပ်ပါသည်။

၁၇/၂

ဥက္ကဋ္ဌ (ဒုတိယဝန်ကြီးချုပ်)

၁၈/၂

*မှ၁၀/၀၂/၉၆။






# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၁၃/၉၆ ၁၉၉၆ ခုနှစ်၊ ဒီဇင်ဘာ လ ၁၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးယဉ်ထွေးသက်

(ခ) အဘအမည် ဦးကျော်စိန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဗတတ(နိုင်)၀၂၃၁၃၃

(ဃ) နေရပ်လိပ်စာ အမှတ် ၃၁ (အိပ်ရှိ)၊ မဟာမြိုင်လမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း စင်ထရယ်မားကက်တင်း(န်) ကုမ္ပဏီလီမိတက် (Central Marketing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီပလာဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်း နှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်း လုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၈၁)၊ မြေကွက်အမှတ် (၇/ဘီ-၅)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ~~၃၂.၂၁ သန်း (ကျပ်သုံးဆယ့်နှစ်သန်း နှင့် နှစ်သိန်း တိတိ)~~
၄၂.၂၀ သန်း (ကျပ်လေးဆယ့်နှစ်သန်း နှင့် နှစ်သိန်း တိတိ)

G.M.
11/12/97
524479

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့

စာအမှတ်၊ ရက-၇/ပ-၉၀၄/၉၇(၁၃၃၆)။
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၁၈ ရက်။

အကြောင်းအရာ။ ။ Central Marketing Co., Ltd. ၏ ခွင့်ပြုထားသည့်စုစုပေါင်း မတည်ငွေရင်း တိုးမြှင့်ခွင့်နှင့်ကားရပ်နားရန် (၃)ထပ်အဆောက်အဦ ဆောက်လုပ်ခွင့်တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ Central Marketing Co., Ltd. ၏ (၄-၉-၉၇) ရက်စွဲပါစာ

၁။ Central Marketing Co., Ltd. မှ လက်ရှိလုပ်ငန်းဆောင်ရွက်လျက်ရှိသော မြေနေရာနှင့်ကပ်လျက်တစ်ဝက်ပိုင်းဖြစ်သော မြေနေရာတွင်ကားရပ်နားရန် (၃)ထပ်အဆောက်အဦ ဆောက်လုပ်ခွင့်နှင့်မူလခွင့်ပြုထားသည့် စုစုပေါင်းမတည်ငွေရင်း ကျပ်သိန်း ၃၂.၂၀ မှကျပ် ၄၂.၂၀ သိန်းသို့တိုးမြှင့်ခွင့်ပြုပါရန်တင်ပြချက်ကို (၂၈-၁၀-၉၇) နေ့တွင်ကျင်းပသော (၁၇/၉၇) ကြိမ်မြောက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့တင်ပြခဲ့ရာ၊ ယင်းအစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ပါ၍ ယင်းဆုံးဖြတ်ချက်ကိုသိရှိနိုင်ပါရန်နှင့်ဆက်လက်ဆောင်ရွက်နိုင်ပါရန်အကြောင်းကြားအပ်ပါသည်။

(မောင်မောင်ရီ)
တွဲဖက်အတွင်းရေးမှူး။

<u>မန်နေဂျင်းဒါရိုက်တာ</u>
<u>Central Marketing Co.,Ltd</u>

မိတ္တူကို (၁) ရုံးအဖွဲ့မှူး၊ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
(၂) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်။
(၃) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။
(၄) ရုံးလက်ခံ။
(၅) မျှောစာတွဲ။

*ယ၁၂/၁၁/၉၇။






ပုံစံ(မနသ-၂)

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၅၃/၉၆ ၁၉၉၆ ခုနှစ်၊ ဒီဇင်ဘာ လ ၁၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးယဉ်ထွေးသက်

(ခ) အဘအမည် ဦးကျော်စိန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ(နိုင်)၀၂၅၁၅၃

(ဃ) နေရပ်လိပ်စာ အမှတ် ၃၁ (အိပ်ချ်)၊ မဟာမြိုင်လမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း စင်ထရယ်မားကက်တင်း(န်) ကုမ္ပဏီလီမိတက် (Central Marketing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီပလာဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (ဂ၁)၊ မြေကွက်အမှတ် (၇/ဘီ-၅)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၃၂.၂ သန်း (ကျပ်သုံးဆယ့်နှစ်သန်းနှင့်နှစ်သိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်






# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ–၀၅၃/၉၆ ၁၉၉၆ ခုနှစ်၊ ဒီဇင်ဘာ လ ၁၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

၁ (က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ယဉ်ထွေး သက်

(ခ) အဘအမည် ဦး ကျော်စိန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ(နိုင်)၀၂၅၁၅၃

(ဃ) နေရပ်လိပ်စာ အမှတ် ၃၁ (အိပ်ချ်)၊ မဟာမြိုင်လမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း စင်ထရယ်မားကက်တင်း(န်) ကုမ္ပဏီလီမိတက် (Central Marketing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီ ပလာဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်း နှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (ဂ၁)၊ မြေကွက်အမှတ် (၇/ဘီ–၄)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ~~၃၂.၂၀ သန်း (ကျပ်သုံးဆယ့်နှစ်သန်း နှင့်နှစ်သိန်းတိတိ)~~
၄၂.၂၀ သန်း (ကျပ်လေးဆယ့်နှစ်သန်း နှင့်နှစ်သိန်းတိတိ)

၂၀–၁၀–၉၇ နေ့ကျင်းပြုလုပ်သည့် ကော်မရှင်၏ ၁၇/၉၇ ကြိမ်မြောက်အစည်းအဝေးဆုံး ဖြတ်ချက်အရ ပြင်ဆင်သည်။

(စိုးဝင်း)
ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီးချုပ်ရုံး
ရန်ကုန်မြို့

စာအမှတ်၊ (ဒု) ၀ခ၇/ရင်းနှီး/၁ ( ၄၀၁ )။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ နိုဝင်ဘာလ ၂၉ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီအဆောက်အဦ ဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့် လူနေအိမ်ခန်းများ တည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာနိုင်ငံမှ စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက်(Central Marketing Co., Ltd. )သည် နိုင်ငံတကာအဆင့်မီအဆောက်အဦ ဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့် လူနေအိမ်ခန်းများ တည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၉-၁၁-၉၆) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ မူအားဖြင့် သဘောတူညီပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်အရ စက်ပစ္စည်း ဝယ်ယူရန် သဘောတူစာချုပ် (မူကြမ်း) ကို နောက်ဆက်တွဲ (၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၂၀ သန်း အပါအဝင် ကျပ် ၃၂.၂၀ သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် ၃.၅၄ သန်း၊ အဆောက်အဦတန်ဖိုး ကျပ် ၁၀.၀၀ သန်း၊ မြေတန်ဖိုး ကျပ် ၁၁.၄၆ သန်း နှင့် စက်ပစ္စည်းကိရိယာတန်ဖိုး ကျပ် ၇.၂၀ သန်း (အမေရိကန်ဒေါ်လာ ၁.၂၀ သန်း) ပါဝင်မည်ဖြစ်ပါသည်။ စက်ပစ္စည်းနှင့် ဆောက်လုပ်ရေးပစ္စည်းများကို စင်ကာပူနိုင်ငံ SME International(s) Pte. Ltd. - မှ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်ဖြင့် ဝယ်ယူ

မည်ဖြစ်ပါသည်။ ချေးငွေကိုတစ်နှစ်လျှင် ၈ ရာခိုင်နှုန်း အတိုး နှုန်း ဖြင့် ၆ နှစ်အတွင်း ပြန်လည်ပေး ဆပ်မည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ကို ဆောင်ရွက်ရန်ကုမ္ပဏီပိုင် မြေဖြစ် သော ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ မြေကွက်အမှတ် ( ၇/ဘီ-၄ )၊ မြေတိုင်းရပ်ကွက်အမှတ် ( ၈၁ ) ရှိ မြေဧရိယာ ၀.၆၂၄ဧက ( ၂၅၂၅ စတုရန်းမီတာ ) ပေါ်တွင် ရုံးခန်း၊ ချေးဆိုင်ခန်းနှင့် လူနေအိမ်ခန်း များ တည်ဆောက်၍ ငှား ရမ်း ဆောင်ရွက်မည်ဖြစ်ပါသည်။ မြေတန်ဖိုး ကျပ် ၁၁.၄၆ သန်းနှင့်အဆောက်အဦတန်ဖိုး ကျပ် ၁၀.၀၀သန်း ကိုမတည်ငွေရင်း အဖြစ်ထည့်ဝင်ထား ပါသည်။

၄။ ဤလုပ်ငန်း တွင်အဆောက်အဦ၏ ငှားရမ်းနိုင် သောကြမ်းပြင်ဧရိယာ စုစု ပေါင်း မှာ ၂၀၀၀ စတုရန်းမီတာဖြစ်ပါသည်။ ပုံမှန်နှစ်များ တွင်နိုင်ငံခြားငွေဖြင့်ငှားရမ်းမည့်နှုန်း ကို ၆၅ ရာခိုင်နှုန်း ဖြင့်လည်း ကောင်း၊ ကျပ် ငွေဖြင့်ငှားရမ်းမည့်နှုန်း ကို ၂၀ ရာခိုင်နှုန်း ဖြင့်လည်း ကောင်းခန့်မှန်း တွက်ချက်ထားပါသည်။ အခန်း ငှား ခနှုန်း မှာပုံမှန်နှစ်တွင်တစ်စတုရန်း မီတာလျှင် နိုင်ငံခြား ငွေဖြင့်အမေရိကန် ဒေါ်လာ ၃၈၀ ဒေါ်လာနှုန်း ဖြင့်လည်း ကောင်း၊ ကျပ် ငွေဖြင့်ကျပ် ၅၇၀၀၀ နှုန်းဖြင့် လည်း ကောင်းငှား ရမ်း မည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်း ကို ဆောင်ရွက်ခြင်း ဖြင့်တစ်နှစ်ပျမ်း မျှရရှိမည့်ဝင်ငွေ နှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

( ကျပ်သန်း )

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၃.၄၂ | ၃.၁၀ | ၂၆.၅၂ |
| (ခ) | အသုံးစရိတ် | ၁၉.၂၂ | ၁.၁၈ | ၂၀.၄၀ |
| (ဂ) | အသားတင်အမြတ် | ၄.၂၀ | ၁.၈၂ | ၆.၀၂ |

၆။ ဤလုပ်ငန်း ကို ဆောင်ရွက်ခြင်း ဖြင့်နိုင်ငံတော်မှတစ်နှစ်ပျမ်းမျှရရှိမည့်အကျိုး အမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

( ကျပ်သန်း )

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် | ၂.၂၉ |
| (ခ) | ကုန်သွယ်လုပ်ငန်း ခွန် | ၂.၆၅ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ပြည်တွင်း မှ ဝန်ထမ်း ၇၅ ဦးနှင့် နိုင်ငံခြား မှ ကျွမ်းကျင်သူ ၄ ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များ သာလျှင် ပိုင်ဆိုင် သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြား မှ မည်သူမျှ ပိုင်ဆိုင်မှုမရှိ ကြောင်းနှင့် မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်း မည့်စည်း ကမ်း သတ်မှတ်ချက်များကို လိုက်နာမည်ဖြစ် ကြောင်း ကတိဝန်ခံချက် ပေး ထား ပါသည်။

၉။ မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ အား လုံး ကိုခံစား ခွင့်ပြုရန် လျှောက်ထား လာပါသည်။ ဥပဒေပုဒ်မ ၁၂အရစီး ပွား ရေးလုပ်ငန်း စတင် သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက်ဝင် ငွေခွန်ကင်း လွတ်ခွင့် ပေး ရမည်ဖြစ်ပါသည်။ ဥပဒေ ပုဒ်မ ၁၃အရအခွန်ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ အနက်လုပ်ငန်း နှင့် သင့်လျော်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ကော်မရှင်မှ ဆုံး ဖြတ်ခဲ့ပါသည်။

၁၀။ ဆုံး ဖြတ်ရန်အချက်။

(က) ဝင်ထရယ်မားကက်တင်း (န်) ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ အဆောက်အဦ ဆောက်လုပ်၍ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့်လူနေအခန်း များတည် ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ - မတူ။

(ခ) လုပ်ငန်း ဆောင်ရွက်ရန်သဘောတူပါကမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်သဘောတူ - မတူ။

၁၁။ ဒုတိယဝန်ကြီး ချုပ်ရုံး ၏ ထောက်ခံချက်။

အစိုး ရအဖွဲ့၏ ဆုံး ဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ ဗိုလ်မှူး ချုပ် မောင်မောင် ]
ဝန်ကြီး
ဒုတိယဝန်ကြီး ချုပ်ရုံး
နှင့်
အတွင်း ရေး မှူး
မြန်မာနိုင်ငံ ရင်း နှီး မြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံ တော်အစိုး ရအဖွဲ့။

(၂၇.၁၁.၉၆) MIC [illegible] O/C.

[illegible]

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

## အဆိုပြုချက်

## စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက်

**********

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

## CENTRAL MARKETING COMPANY LIMITED




# CENTRAL MARKETING Co., LTD.

615-C2, Malar Lane, $5^1/_2$ Mile, Off Pyay Road,
Kamaryut Township, Yangon, Myanmar.
Tel : (951) 530930, Fax : 951-527355

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၆ခုနှစ်၊နိုဝင်ဘာလ(၂၆) ရက်။

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ကျွန်တော်တို့၏ စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက် သည် ( ၇ ) ထပ်အမြင့်ရှိသော **OFFICE & APARTMENT, PLAZA AND SHOPPING CENTER** ကိုနိုင်ငံတကာအဆင့်အတန်းမီ စီးပွားရေးအဆောက်အအုံ အဖြစ်တည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အထက်ပါ အဆောက်အဦးတွင် ရုံးခန်း၊ ဈေးဆိုင်ခန်း၊ လူနေအိမ်ရာများဖွင့်လှစ်ငှားရမ်းခြင်း စသောလုပ်ငန်းများ လုပ်ကိုင်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် ကို လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။ အကြိုစီစစ်ရန် တင်ပြထားခြင်းမှ ပြင်ဆင်ရန်အချက်များအား ပြင်ဆင်ပြီးဖြစ်ပါသဖြင့် ကော်မရှင်မှ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကိုလိုအပ်သလို စီစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ(၃၅)စုံ ကိုပေးပို့ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးယဉ်ထွေးသက်
(အုပ်ချုပ်မှုဒါရိုက်တာ)
စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက်




# CENTRAL MARKETING Co., LTD.

615-C2, Malar Lane, 5½ Mile, Off Pyay Road,
Kamaryut Township, Yangon, Myanmar.
Tel : (951) 530930, Fax : 951-527355

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၆ခုနှစ်၊ နိုဝင်ဘာလ( ၁၁) ရက်။

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များအကြိုစိစစ် ပေးနိုင်ရန် ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ကျွန်တော်တို့၏ စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက် သည် ( ၇ ) ထပ် အမြင့်ရှိသော OFFICE & APARTMENT, PLAZA AND SHOPPING CENTER ကိုနိုင်ငံတကာအဆင့်အတန်းမှီ စီးပွားရေးအဆောက်အအုံ အဖြစ်တည် ဆောက်ပြီး၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် အထက်ပါ အဆောက်အဦးတွင် ရုံးခန်း၊ ဈေးဆိုင်ခန်း၊ လူနေအိမ်ရာ များဖွင့်လှစ်ငှားရမ်းခြင်း စသောလုပ်ငန်းများ လုပ်ကိုင်ခွင့် ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။ သို့ဖြစ်ပါ ၍ကျွန်ုပ်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ရန် အတွက် အဆိုပြုလွှာ(၁၀)စုံ ကိုပေးပို့တင်ပြ အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

Yinntwe Thet

ဦးယဉ်ထွေးသက်
(အုပ်ချုပ်မှုဒါရိုက်တာ)
စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက်



# CENTRAL MARKETING Co., LTD.

615-C2, Malar Lane, 5½ Mile, Off Pyay Road,
Kamaryut Township, Yangon, Myanmar.
Tel : (951) 530930, Fax : 951-527355

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၆ခုနှစ်၊ နိုဝင်ဘာလ( ၁၁ ) ရက်။

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ကျွန်တော်တို့၏ စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက် သည် ( ၇ ) ထပ်အမြင့်ရှိသော OFFICE & APARTMENT, PLAZA AND SHOPPING CENTER ကိုနိုင်ငံတကာအဆင့်အတန်းမီ စီးပွားရေးအဆောက်အအုံ အဖြစ်တည်ဆောက် ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အထက်ပါအဆောက်အဦးတွင် ရုံးခန်း၊ ဈေးဆိုင်ခန်း၊ လူနေအိမ်ရာများဖွင့်လှစ်ငှားရမ်းခြင်း စသောလုပ်ငန်းများ လုပ်ကိုင်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် ကို လျှောက်ထား သောကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါဟု ဝန်ခံကတိပြု ပါသည်။

၂။ ထို့အပြင် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ ထို့အပြင် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက် ထားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးယဉ်ထွေးသက်
(အုပ်ချုပ်မှုဒါရိုက်တာ)
စင်ထရယ်မားကက်တင်း(န်)ကုမ္ပဏီလီမိတက်



# CENTRAL MARKETING Co., LTD.

615-C2, Malar Lane, 5½ Mile, Off Pyay Road,
Kamaryut Township, Yangon, Myanmar.
Tel : (951) 530930, Fax : 951-527355

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၆ ခုနှစ်၊ နိုဝင်ဘာလ (၁၁) ရက်။

အကြောင်းအရာ။ ။ စင်ထရယ် မားကတ်တင်း(န်) ကုမ္ပဏီလီမိတက်မှ **OFFICE & APARTMENT, PLAZA AND SHOPPING CENTER BUILDING** တည်ဆောက် ရင်း နှီး မြှုပ်နှံခြင်းကိစ္စ။

ကျွန်တော်များ၏ ကုမ္ပဏီမှ ရန်ကုန်မြို့အမှတ် (၅၃၂)၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်းတွင် The Lengend Hotel လုပ်ငန်းဆောင်ရွက်ရန်တင်ပြခဲ့ရာ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ၁၁ /၆ /၉၆ နေ့စွဲပါ စာအမှတ် ရက- ၁/မ- ၀၅၁/၉၆ (၀၂၆၆) အရသဘောမတူကြောင်းသိရှိခဲ့ရပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့မှာ မြန်မာနိုင်ငံသားရင်းနှီး မြှုပ်နှံသူများအနေဖြင့် နိုင်ငံတော်၏ အကြီးအကဲများဖြင့် ဖွဲ့စည်းထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်ကို ရိုသေစွာ လိုက်နာသောအားဖြင့် ကျွန်တော်များ၏ မူလအစီအစဉ် ဟိုတယ် တည်ဆောက်ခြင်း ကိစ္စကို လုံးဝပယ်ဖျက်ခဲ့ပြီး Commercial အဆောက်အဦးတစ်လုံး အဖြစ်သာ အစားထိုးတည်ဆောက်ရန်ဆုံးဖြတ်ခဲ့ကြပါသည်။ ၎င်းအဆောက်အဦးတွင် Show Room, Shop Unit ရုံးခန်းနှင့် Apartment များပါဝင်မည်ဖြစ်ပါသည်။

ကျွန်တော်များတည်ဆောက်မည့် အထက်ပါအဆောက်အဦးအား အောက်ပါရည်ရွယ်ချက်များကို အခြေခံ၍ တည်ဆောက်ရန်စီစဉ်ခဲ့ခြင်းဖြစ်ပါသည်။

၁။ နိုင်ငံတော်၏ စီးပွားရေးဦးတည်ချက် (၄) ရပ်မှ တစ်ရပ်ဖြစ်သော ပြည်တွင်းပြည်ပမှ အတက်ပညာနှင့် အရင်းအနှီးများ ဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေးဟူသောအချက်နှင့်အညီ၊ ပြည်ပတွင် ကြိုးစားရှာဖွေစုဆောင်း၍ နိုင်ငံတော်သို့ ပေးသင့်ပေးထိုက်သော ဝင်ငွေခွန်ဆောင်ပြီးအရင်းအနှီးများ၊ လေ့လာတတ်ကျွမ်းခဲ့သော အတတ်ပညာ၊ အတွေ့အကြုံနှင့် အဆက်အသွယ်ကောင်းများကို အသုံးချ၍ နိုင်ငံတကာ အဆင့်မှီ အဆောက်အဦးတစ်ခုဖြစ်ပေါ်လာရေး။

၂။ နိုင်ငံတော်၏ စီးပွားရေးဦးတည်ချက်တစ်ရပ်ဖြစ်သော နိုင်ငံတော်စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသားပြည်သူတို့၏ လက်ဝယ်တွင်ရှိရေးဟူသော အချက်နှင့်အညီ၊ ဤရင်းနှီးမြှုပ်နှံမှုကိုအခြေခံ၍ မြန်မာအမျိုးသား၊ မြန်မာနိုင်ငံသားပိုင်ဆိုင်သော ကုမ္ပဏီ တစ်ခုအနေဖြင့် မြန်မာနိုင်ငံတွင် အအောင်မြင်ဆုံး ကုမ္ပဏီတစ်ခုဖြစ်လာပြီး နိုင်ငံနှင့်လူမျိုးကို အကျိုးပြုနိုင်ရေး။

